

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# တော်ဝင် ပုဂံ မြရတနာ ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# ROYAL BAGAN EMERALD COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# တော်ဝင် ပုဂံ မြရတနာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏အမည်သည် **တော်ဝင် ပုဂံ မြရတနာ ကုမ္ပဏီ လီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၁၀၀၀၀၀၀၀၀၀၀ /-( ကျပ်
**သန်းတစ်သောင်း** ကိုတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀၀.၀၀ /-( ကျပ်
**တစ်သိန်း** ကိုတိ ) တန်အစုရှယ်ယာပေါင်း ( ၁၀၀၀၀ )
ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၅။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၁။ အကျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
၂။ ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
၃။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
၄။ ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
၅။ သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
၆။ ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
၇။ တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
၈။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
၉။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
၁၀။ ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
၁၁။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
၁၂။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၃။ သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၄။ တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
၁၅။ ရေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၆။ ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
၁၇။ ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
၁၈။ စက်ချုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
၁၉။ အိမ်သုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၀။ လူသုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
။ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများရောင်းဝယ်ခြင်း
၂၂။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၂၃။ ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
၂၄။ ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း
၂၅။ ဆေးနှင့်ဆေးပစ္စည်းများရောင်းဝယ်ခြင်း
၂၆။ စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၂၇။ အထည်အလိပ်နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
၂၈။ စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
၂၉။ ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများရောင်းဝယ်ခြင်း
၃၀။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
၃၁။ (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
၃၂။ တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
၃၃။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
၃၄။ ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၇။ ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၈။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
၃၉။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
၄၀။ စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
၄၁။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၄၂။ အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
၄၃။ အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
၄၄။ ဆောက်လုပ်ရေး လုပ်ငန်းများ
၄၅။ ကျောက်မျက် လုပ်ငန်းများ
၄၆။ ခရီးသွားလုပ်ငန်း
၄၇။ ဟိုတယ်လုပ်ငန်း
၄၈။ အသေးစားငွေရေးကြေးရေးလုပ်ငန်း

၆။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါက်တာ စိုးသူအောင်<br>ကုန်သည်<br>အမှတ်(၈၇/စီ)၊ ပြည်လမ်း၊<br>ပြည်လမ်းအနောက်ရပ်ကွက်၊ ဒဂုံမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၉/ကပတ(နိုင်)၀၆၅၄၉၈ | ၂၅၀၀ | (signature) |
| ၂ | ဒေါက်တာ မြမြထွေး<br>ကုန်သည်<br>အမှတ်(၈၇/စီ)၊ ပြည်လမ်း၊<br>ပြည်လမ်းအနောက်ရပ်ကွက်၊ ဒဂုံမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၉/မရမ(နိုင်)၀၂၆၆၀၃ | ၂၅၀၀ | (signature) |

နေ့စွဲ ၊ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U YE (Taungdwingyi)
LL.B ADVOCATE (4785)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# တော်ဝင် ပုဂံ မြရတနာ ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ ‘က’ ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၁၀၀၀၀၀၀၀၀၀ /-(ကျပ်
သန်းတစ်ထောင် တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀.၀၀ /-(ကျပ်
တစ်သိန်း တိတိ)တန်အစုရှယ်ယာပေါင်း ၁၀၀၀၀ ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း
သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ (၁၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

( ၁ ) ဒေါက်တာ စိုးသူအောင် ( ၂ ) ဒေါက်တာ မြမြထွေး

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေ များ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ၊ အခွင့်အလမ်းများ မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်း များကိုမဆို သင့်တော်သော စည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိ ရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒိဘင်ချာများ ၊ ဒိဘင်ချာစတော့ခ်များ ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာ များ၊ ငွေချေးစာချုပ်များ ၊ သို့မဟုတ် ဒိဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များကိုထုတ်ပေးရန်၊ ထိုအပြင် အဆိုပါအစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒိဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်း များ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင်ဤကုမ္ပဏီ၏ပစ္စည်းရပ်များအားလုံးသို့မဟုတ်တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော် လည်းကောင်း၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများ အတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း၊ စွင့်ပြုရန် သို့မဟုတ် သင့်လျော် သည့် အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်း များကို အမြဲ တမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင် ရွက်ရန် ၊ ထို့အပြင် အဆိုပါကိစ္စများ အတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကို ဖြစ်စေ ၊ တစ်စိတ်တစ်ဒေကို ဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေးဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၄င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြား အကြောင်းများကြောင့် ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီးများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန် ရှိသောငွေတောင်းခံခြင်းများကို ဖြန်ဖြေရေးခုံသမာဓိထံသို့ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက် အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန် ရှိသောငွေကြေးများအတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသော နည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ဤကုမ္ပဏီ၏ ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံမှုထားရန်နှင့် စီမံခန့်ခွဲထား ရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းများကို သင့်လျော်သည်ဟုယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချ နိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်းချက်များ ပါပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သောလုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်းသို့မဟုတ်ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၁၇) ဤ ကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါ အားလျော်စွာ သတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။။

(၁၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ်ရန် ၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း ၊ ၎င်းတို့နှင့် စပ်လျဉ်း သော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၁၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသို့မဟုတ်ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

## အထွေထွေ အစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း သင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေး သည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ် (နောက်ဆုံး ကျင်းပသည့် အထွေထွေအစည်း အဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ၊ ဤတွင် ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေ ရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့သို့သော ဥာဏ် ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြု ရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံး အတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကိုအောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့် အညီ ထားသို ထိန်းသိမ်းဆောင်ရွက်သွားရမည် ။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ ။

(၂) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်း ထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

စာရင်းစစ်

၂၀။ စာရင်းစစ်များကိုခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်း များနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထိုအပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ် ထားသည့် စာရွက်စာတမ်း တိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့သည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ ကုန်ကျငွေ များ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ် ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါက်တာ စိုးသူအောင်<br><br>ကုန်သည်<br><br>အမှတ်(၈၇/စီ)၊ ပြည်လမ်း၊<br>ပြည်လမ်းအနောက်ရပ်ကွက်၊ ဒဂုံမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၉/ကပတ(နိုင်)၀၆၅၄၉၈ | ၂၅၀၀ | (signature) |
| ၂ | ဒေါက်တာ မြမြထွေး<br><br>ကုန်သည်<br><br>အမှတ်(၈၇/စီ)၊ ပြည်လမ်း၊<br>ပြည်လမ်းအနောက်ရပ်ကွက်၊ ဒဂုံမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၉/မရမ(နိုင်)၀၂၆၆၀၃ | ၂၅၀၀ | (signature) |

နေ့စွဲ ၊ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U YE (Taungdwingyi)
LL.B ADVOCATE (4785)

THE MYANMAR COMPANY ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

OF

# ROYAL BAGAN EMERALD COMPANY LIMITED



I. The name of the Company is **ROYAL BAGAN EMERALD COMPANY LIMITED**

II. The registered office of the Company will be situated in the Union of Myanmar.

III. The liability of the members is limited.

IV. The authorised capital of the Company is Ks- **1000000000** /-(Kyats **One Thousand Million** Only ) divided into **(10000** ) shares of Ks. **100000.00** /-(Kyats **Ten Thousand** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

V. The Objective For Which The company is established are

1. All kinds of agency business, technical consultants, business consultants, management consultants and advisory services.
2. Advertising and its agency business.
3. Business of entertainments and related activities.
4. Business of all kinds of medical services.
5. Business of transportation (except railways and airways)
6. Business of printing and publishing.
7. Business of surveying and inspection.
8. Business of feasibility study on new projects, projects formulation, project appraisal and project evaluation.
9. Business of Account writing, Auditing and legal advisory services.
10. Business of servicing, maintenance of repairing of all kinds of vehicles and machines.
11. Business of installation, maintenance and renovation of electrical and electronic goods.
12. Trading of Agricultural and farm produces.
13. Trading of Forest products and value-added wood-based products.
14. Trading of Animal by-products and Animal feed.
15. Trading of Marine products.
16. Trading of Fertilizer and insecticides.
17. Trading of Chemicals and dyes.
18. Trading of Factory utencils and raw material.
19. Trading of Household goods.
20. Trading of Personal goods.
21. Trading of Construction materials and paints.p
22. Trading of Electrical and electronic products.
23. Trading of Vehicles, Machinery and spares.
24. Trading of Tools and implement.
25. Trading of Medicines and medical equipment.
26. Trading of Foodstuff and general merchandise.
27. Trading of Textile and garment.
28. Trading of Paper, stationery and photographic stores.
29. Trading of Office equipment and educational supplies.
30. Growing, producing, harvesting, preserving, packing, milling and manufacturing of agricultural and farm products.
31. Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber(excluding-teak) and forest products.
32. Livestock breeding, processing and canning of livestock products.
33. Finishing, preserving, milling, canning and processing of marine products.
34. Producing fertilizers, insecticides and animal feeds.
35. Manufacturing of personal goods.
36. Manufacturing of household goods.
37. Manufacturing of vehicles, machineries and spares.
38. Manufacturing of arts and crafts, lacquerwares and furniture.
39. Manufacturing of construction materials and paints.
40. Manufacturing of factory utencils.
41. Manufactu0072ing of electrical and electronic goods.
42. Manufacturing of textile, garments and clothing.
43. To carry on the business of explanation, exploitation, production, processing of minerals and marketing of its products with the permission of the Government.
44. Consturuction
45. Gems
46. Travels & Tours
47. Hotel
48. Macro Finance And Financial Services

VI. To borrow money for the benefit of the Company's business from any person,firm,company, bank or financial organization in the manner that the Company shall think fit.

PROVISO: Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere,save in so for as it may be entitled so as to do in accordance with the Laws,Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **Dr Soe Thu Aung**<br>Merchant<br>No.(87/C), Pyay Road, Pyay Road(West) Ward, Dagon Township, YANGON | 9/KAPATA(NAING)065498 | 2500 | |
| 2 | **Dr Mya Mya Htway**<br>Merchant<br>No.(87/C), Pyay Road, Pyay Road(West) Ward, Dagon Township, YANGON | 9/MAYAMA(NAING)026603 | 2500 | |

Dated the day of

It is hereby certified that the persons mentioned above put their signatures in my presence.

U YE (Taungdwingyi)
LL.B ADVOCATE (4785)

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Articles Of Association

# ROYAL BAGAN EMERALD COMPANY LIMITED



1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. **1000000000** /-(Kyats **One Thousand Million** only ) divided into ( **10000** ) shares of Ks **100000.00** /-(Kyats **Ten Thousand** only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representive of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 15 ).

The First Directors shall be:-

( 1 ) Dr Soe Thu Aung ( 2 ) Dr Mya Mya Htway

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

The qualification of Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power;-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit: also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being,

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfillment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and, to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute , conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof , upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

(1) *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*

(2) *all sales and purchases of goods by the Company ;*

(3) *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges. losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **Dr Soe Thu Aung**<br>Merchant<br>No.(87/C), Pyay Road, Pyay Road(West) Ward, Dagon Township, YANGON | 9/KAPATA(NAING)065498 | 2500 | [signature] |
| 2 | **Dr Mya Mya Htway**<br>Merchant<br>No.(87/C), Pyay Road, Pyay Road(West) Ward, Dagon Township, YANGON | 9/MAYAMA(NAING)026603 | 2500 | [signature] |

Dated the day of

It is hereby certified that the persons mentioned above put their signatures in my presence.

U YE (Taungdwingyi)
LL.B ADVOCATE (4785)

Bagan Lotus Co., Ltd.

ပုဂံကြာပန်းကုမ္ပဏီလီမိတက်

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်း

လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာ




# BAGAN LOTUS COMPANY LIMITED

No. 31 /4, Near Tollgate, Nyaung U-Kyauk Pa Daung Road, Nyaung U Township.
Ph: +95 9 5141554, +95 9 5183233, +95 9 5124281




သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊သစ္စာလမ်းမကြီး၊ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

ရက်စွဲ -၂၀၁၅ ခုနှစ်အောက်တိုဘာလ (၁၃) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ Bagan Lotus Company Limited. သည် မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ တောင်ဘကျေးရွာ၊ တိုးဂိတ်အနီး၊ ကျောက်ပန်းတောင်း-ညောင်ဦးလမ်းမကြီး၊ အမှတ် (၃၁/၄) တွင်တည်ရှိ သည့်နှစ် (၃၀)ဂရမ်မြေ ( ၃ . ၈၂) ဧက တွင်နိုင်ငံတကာအဆင့်မီဟိုတယ်အဆောက်အဦများတည်ဆောက်၍ ဟိုတယ်လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် (၂၄-၀၈-၂၀၁၅) ရက် နေ့တွင်ကျင်းပသည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၀/၂၀၁၅) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပြီးအဆိုပါအစည်းအဝေး၏ ဆုံးဖြတ်ချက်နှင့်အညီအဆိုပြုလွှာအားပြင်ဆင်ပြီး ဖြစ်သဖြင့်ခွင့်ပြုပေးနိုင်ပါရန်အဆိုပြုလွှာ (      ) စုံကို ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

Dr. Khin Maung Myint
Managing Director
Bagan Lotus Co., Ltd.

ဒေါက်တာခင်မောင်မြင့်

မန်နေဂျင်းဒါရိုက်တာ

Bagan Lotus Company Limited




# BAGAN LOTUS COMPANY LIMITED

No. 31 /4, Near Tollgate, Nyaung U-Kyauk Pa Daung Road, Nyaung U Township.

Ph: +95 9 5141554, +95 9 5183233, +95 9 5124281





သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊သစ္စာလမ်းမကြီး၊ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

ရက်စွဲ -၂၀၁၅ ခုနှစ်ဩဂုတ်လ (၁၄) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ Bagan Lotus Company Limited. သည် မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ တောင်ဘကျေးရွာ၊ တိုးဂိတ်အနီး၊ ကျောက်ပန်းတောင်း-ညောင်ဦးလမ်းမကြီး၊ အမှတ် (၃၁/၄) တွင်တည်ရှိ သည့်နှစ် (၃၀)ဂရမ်မြေ ( ၃ . ၈၂) ဧက တွင်နိုင်ငံတကာအဆင့်မီဟိုတယ်အဆောက်အဦများတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ထိုသို့လုပ်ငန်းဆောင်ရွက်ရာတွင်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ငန်းဆောင်ရွက်နိုင်ပါရန်အတွက်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အဆိုပြုလွှာ ( ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

Dr. Khin Maung Myint

Managing Director

Bagan Lotus Co., Ltd.

ဒေါက်တာခင်မောင်မြင့်

မန်နေဂျင်းဒါရိုက်တာ

Bagan Lotus Company Limited



# BAGAN LOTUS COMPANY LIMITED

No. 31 /4, Near Tollgate, Nyaung U-Kyauk Pa Daung Road, Nyaung U Township.
Ph: +95 9 5141554, +95 9 5183233, +95 9 5124281

သို့ဖြစ်ပါ၍ ဒေသဖွံ့ဖြိုးရေးနှင့်နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်သစ်များရရှိစေရန်အတွက်လည်းကောင်း ၊ မြန်မာနိုင်ငံ၏ဖွံ့ဖြိုးတိုးတက်ရေးတဖက်တလမ်းမှအထောက်အကူပြုနိုင်ရေးအတွက်လည်းကောင်း ကျွန်တော်တို့၏ လျှောက်ထား ခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)ပုဒ်မ(၂၀) အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

လျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား၊ စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်-

(က) ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့်တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ

(ဃ)မြေငှားစာချုပ်(မူကြမ်း)

(င) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ပြီးကြောင်းအထောက်အထားများ

လေးစားစွာဖြင့်

ဒေါက်တာခင်မောင်မြင့်

မန်နေဂျင်းဒါရိုက်တာ

Bagan Lotus Company Limited



# BAGAN LOTUS COMPANY LIMITED

No. 31 /4, Near Tollgate, Nyaung U-Kyauk Pa Daung Road, Nyaung U Township.
Ph: +95 9 5141554, +95 9 5183233, +95 9 5124281

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊သစ္စာလမ်းမကြီး၊ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

ရက်စွဲ - ၂၀၁၅ ခုနှစ်ဩဂုတ်လ (၁၄) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)ပုဒ်မ(၂၀)တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များခံစားခွင့် ပြုပါရန် လျှောက်ထားခြင်း။</u>

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ **Bagan Lotus Company Limited.** သည် မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ တောင်ဘကျေးရွာ၊ တိုးဂိတ်အနီး၊ ကျောက်ပန်းတောင်း-ညောင်ဦးလမ်းမကြီး၊ အမှတ် (၃၁/၄) တွင်တည်ရှိ သည့်နှစ် (၃၀)ဂရမ်မြေ ( ၃ . ၈၂) ဧက တွင်နိုင်ငံတကာအဆင့်မီဟိုတယ်အဆောက်အဦများတည်ဆောက်၍ လုပ်ငန်းဆောင်ရွက် သွားမည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည်စုစုပေါင်းရင်းနှီးမြှုပ်နှံမှုအမေရိကန်ဒေါ်လာ (၄၂၈၀၀၅) အပါအဝင် မြန်မာငွေကျပ်သန်း (၂၁၀၀. ၀၀) ကိုရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်၊၄င်းတွင်လုပ်ငန်းလည်ပတ်ရန်ငွေ သားကျပ်(၁၇၈. ၅၄)သန်း၊ စက်ပစ္စည်းအမေရိကန် ဒေါ်လာ(၀. ၂၄)သန်းအပါအဝင်ကျပ် (၂၈၉. ၇၈)သန်း၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်း အမေရိ ကန်ဒေါ်လာ(၀. ၁၉) သန်းအပါအဝင်ကျပ် (၃၂၅. ၆၈)သန်း၊ မြေတန်ဖိုး ကျပ် (၁၉၁. ၀၀) သန်းနှင့်အဆောက် အဦတန်ဖိုးကျပ် (၁၁၁၅. ၀၀) သန်း ကိုရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

ဟိုတယ်အဆောက်အဦအားပြည်တွင်းရှိအတတ်ပညာရှင်များဖြင့် တည်ဆောက်သွားမည်ဖြစ်ပြီး အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါကမန္တလေးတိုင်းဒေသကြီး၏ဒေသဖွံ့ဖြိုးရေးကိုများစွာအထောက်အကူဖြစ် စေမည့်အပြင်ဒေသခံပညာတတ် လူငယ်များအတွက်အလုပ်အကိုင်သစ်များနှင့်လုပ်ငန်းအတွေ့အကြုံရရှိစေမည် ဖြစ်ပါသည်၊ နိုင်ငံအတွက် နိုင်ငံခြားငွေရှာဖွေပေးနိုင်မည်ဖြစ်ပါသည်။ဒေသဆိုင်ရာဖွံ့ဖြိုးရေးတိုးတက်မှုနှင့် နိုင်ငံတော်အတွက်အခွန် ဘဏ္ဍာငွေများလည်းရရှိလာနိုင်မည်ဖြစ်ပါသည်။



# BAGAN LOTUS COMPANY LIMITED

No. 31 /4, Near Tollgate, Nyaung U-Kyauk Pa Daung Road, Nyaung U Township.
Ph: +95 9 5141554, +95 9 5183233, +95 9 5124281

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်

အမှတ်(၁)၊သစ္စာလမ်းမကြီး၊ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

ရက်စွဲ -၂၀၁၅ ခုနှစ်ဩဂုတ်လ (၁၄) ရက်။

အကြောင်းအရာ။ ။နိုင်ငံတကာအဆင့်မီဟိုတယ်အဆောက်အဦများတည်ဆောက်၍လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုချက်တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြုပ်နှံမှုဥပဒေအရ လုပ်ငန်းတည်ထောင်ဆောင်ရွက်နိုင်ရန်အတွက်မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်သို့ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် အဆိုပြုတင်ပြလျှောက်ထားခြင်းဖြစ်ပါသည်၊ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်-

(၁) ကျွန်တော်တို့၏လုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီးနိုင်ငံခြားသားမည်သူတစ်ဦး တစ်ယောက်မျှ ပါဝင်ပိုင်ဆိုင်ခြင်း(လုံးဝ)မှမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(၂) ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင် လေထု၊ ရေထု၊ မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန် အတွက်လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများကို နိုင်ငံတော်မှ သတ်မှတ်ထားသည့် လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုပါသည်။

(၃) အလုပ်သမားတစ်ဦးချင်း၏လုပ်ခလစာကိုနောက်ဆက်တွဲဇယားဖြင့်ဖော်ပြထားပြီး ၄င်းလစာနှုန်းထားများသည် အမှန်တကယ်ရရှိမည့်လုပ်ခများဖြစ်ပြီး အဆိုပါလစာငွေသည် ကာလဒေသ ပေါက်ဈေးနှင့် ကိုက်ညီမှုရှိကြောင်း တင်ပြအပ်ပါသည်။

(၄) လစာတနှစ်ကျပ်(၂၀၀၀၀၀၀)နှင့်အထက်ရရှိသောဝန်ထမ်းများ၏ဝင်ငွေခွန်ကိုသတ်မှတ်ထားသော နှုန်းထားများနှင့် အညီပေးဆောင်ရေးအားကုမ္ပဏီမှတာဝန်ယူပါကြောင်းကတိပြုပါသည်။

(၅) C.S.R ရန်ပုံငွေအဖြစ်နှစ်စဉ်လုပ်ငန်း၏အသားတင်အမြတ်ငွေ၏၂%အားသီးသန့်ထားရှိသုံးစွဲသွား မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(၆) လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင်ကိုယ်ပိုင်မီးစက်အားအသုံးပြုသွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။



**BAGAN LOTUS COMPANY LIMITED**

No. 31 /4, Near Tollgate, Nyaung U-Kyauk Pa Daung Road, Nyaung U Township.
Ph: +95 9 5141554, +95 9 5183233, +95 9 5124281

(၇) လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် နိုင်ငံတော်၏ စက်ရုံ၊အလုပ်ရုံ၊ အလုပ်သမား ဥပဒေ အခြေခံစည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၈) ဆောက်လုပ်ရေးလုပ်ငန်းကြောင့်ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်ပေါ်စေရေးအတွက်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးပညာရှင်များနှင့်တိုင်ပင်ခြင်း၊ အကြံဉာဏ်ရယူခြင်းများဆောင်ရွက်သွားပါမည်။

(၉) မြေယာနှင့်ပတ်သက်သည့်နိုင်ငံတော်အစိုးရမှသတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်းချက်များ၊ညွှန်ကြားချက်များနှင့် အညီလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

(၁၀) ခွင့်ပြုမိန့်ရရှိပြီးပါကသက်ဆိုင်ရာဌာနများ၊ အဖွဲ့အစည်းများ၏ညွှန်ကြားချက်များဥပဒေစည်းကမ်းများအားလိုက်နာသွားမည်ဖြစ်ကြောင်းနှင့်ခွင့်ပြုမိန့်နှင့်လုပ်ငန်းလိုင်စင်များရယူဆောင်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

(၁၁) လုပ်ငန်းဆောင်ရွက်မည့်မြေအားမတည်ရင်းနှီးငွေအဖြစ်သတ်မှတ်ထည့်ဝင်မည်ဖြစ်ပြီးမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပါကကုမ္ပဏီအမည်ပေါက်ရေးဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

လေးစားစွာဖြင့်

Dr. Khin Maung Myint
Managing Director
Bagan Lotus Co., Ltd.

နောက်ဆက်တွဲ-ဂ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

NPT-4154
9.9.15

စာအမှတ် ၃(၂)/၁၆(စ)(၆)/( ၂၂၉၅ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၇ ရက်

သို့

✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁ - ၈ - ၂၀၁၅ ရက်စွဲပါစာ အမှတ် ၊ ရက - ၄ / မ - ၁၄၉၁ / ၂၀၁၅ ( ၆၅၉ )

၁။ Royal Bagan Emerald Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး ၊ ညောင်ဦးမြို့နယ်၊ မြေနဲလေးကျေးရွာ ၊ ညောင်ဦးမြို့ရှောင်လမ်း ၊ အမှတ်( ၄၃ / င ) ရှိ မြေ ( ၄.၂၄ ) ဧကတွင် နိုင်ငံတကာ အဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အကြောင်းကြားလာပါသည်။

၂။ အဆိုပါနိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား စိစစ်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ ၊ စွန့်ပစ်အရည်များကြောင့် ရေထုညစ်ညမ်းမှု ၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း နှင့် အဆိုပါ စွန့်ပစ်အရည်များ ၊ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မှုမရှိပါက ပတ်ဝန်းကျင်ရှိ ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Royal Bagan Emerald Co., Ltd. မှ လုပ်ကိုင်ဆောင်ရွက်မည့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility - CSR)အတွက် နှစ်စဉ်ရရှိလာမည့် အသားတင်အမြတ်ငွေ၏ ( ၂ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး ( သို့မဟုတ် ) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး IEE အစီရင်ခံစာ အား ရေးဆွဲပြုစုတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များ ၊ ဟိုတယ် နှင့် ခရီးသွားလာရေးဥပဒေ ၊ နည်းဥပဒေများ ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့များ၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ယဉ်ကျေးမှုဝန်ကြီးဌာန
**ဝန်ကြီးရုံး**



စာအမှတ်၊ ၂ / ၃ - ၁ / ၂၀၁၅ ( ၅၅၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁.၈.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄ / မ - ၁၄၉၁ / ၂၀၁၅ (၆၆၀)
(၂) ရှေးဟောင်းသုတေသနနှင့်အမျိုးသားပြတိုက်ဦးစီးဌာန၏ (၈.၉.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၂၆၁၈ / ၃ / ၄ . င
(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၉.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄ / မ - ၁၄၉၁ / ၂၀၁၅ (၇၀၁.က)

၁။ Royal Bagan Emerald Co ., Ltd က မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ မြေနဲလေးကျေးရွာ ၊ ညောင်ဦးမြို့ရှောင်လမ်း ၊ အမှတ် (၄၃ / င )ရှိ မြေ (၄.၂၄) ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါက်တာစိုးသူအောင်မှ အဆိုပြုတင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းလာခြင်းနှင့်စပ်လျဉ်း၍ ယဉ်ကျေးမှုဝန်ကြီးဌာန၊ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်က ရည်ညွှန်း(၂)ပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာနသည် Regulations များ အတွက် တိကျသောတာဝန်ခံဖြစ်ပါ၍ ၎င်းစာပြန်ကြားချက်မှ ကွဲလွဲခြင်းမရှိပါကြောင်းနှင့် သဘောထား မှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ရဲမြင့် - ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ရှေးဟောင်းသုတေသနနှင့်အမျိုးသားပြတိုက်ဦးစီးဌာန
ရုံးလက်ခံ / မျှော




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ယဉ်ကျေးမှုဝန်ကြီးဌာန

## ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန

## ရုံးအမှတ်-၃၅၊ နေပြည်တော်

စာအမှတ်၊ ၂၆၃၈/၃/၄-င

ရက်စွဲ ၊၂၀၁၅ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၁.၈.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၄၉၁ / ၂၀၁၅(၆၆၀)

Royal Bagan Emerald Co., Ltd. က မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ မြေနဲလေးကျေးရွာ၊ ညောင်ဦးမြို့ရှောင်လမ်း၊ အမှတ်(၄၃/င)ရှိ မြေ( ၄.၂၄ )ဧကတွင် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါက်တာစိုးသူအောင်မှ အဆိုပြုတင်ပြလာခြင်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စနှင့်ပတ်သက်၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ယဉ်ကျေးမှုအမွေအနှစ်ဒေသများ ကာကွယ်ထိန်း သိမ်းရေးဥပဒေအရ သတ်မှတ်သည့်ဇုန်နေရာပြင်ပတွင် ကျရောက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရသဖြင့် ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာနအနေဖြင့် သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

(ကျော်ဦးလွင် )

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို-

- ဝန်ကြီးရုံး၊ ယဉ်ကျေးမှုဝန်ကြီးဌာန
- ရုံးလက်ခံ / မျှော

4 · 9 .2015 . September



နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**
**မန္တလေးမြို့**



စာအမှတ်၊ ၂/၄ - ၉/၂ဦး ၆( ၃၆၈ )
ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၃၁ . ၈ . ၂၀၁၅ )ရက်စွဲပါ စာအမှတ်၊ ၇က-၄/မ-၁၄၉၀/၂၀၁၅ (၆၅၄)

JB-983
7-10-2015

၁။ Bagan Lotus Co.,Ltdက မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ညောင်ဦးမြို့နယ်၊ တောင်ဘကျေးရွာ၊ ကျောက်ပန်းတောင်း-ညောင်ဦးကားလမ်းဘေး၊ ဦးပိုင်အမှတ် (၃၁/၄)ရှိ မြေဧရိယာ (၃.၈၂)ဧကကို ငှားရမ်းကာ နိုင်ငံတကာအဆင့်မီ အခန်း(၁၁၀)ခန်းပါဝင်သော ဘန်ဂလို (၅)လုံး၊ (၂)ထပ် (၁)လုံး၊ (၃)ထပ် (၁)လုံးတည်ဆောက်၍ ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ မန်နေးဂျင်းဒါရိုက်တာ ဒေါက်တာခင်မောင်မြင့် ( ၁၃/လရန(နိုင်)၀၈၆၄၄၅ )က အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့်ပတ်သက်ပြီး မန္တလေးတိုင်းဒေသကြီးအနေဖြင့် အောက်ပါ အကျိုးကျေးဇူးများ ရရှိနိုင်မည်ဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်၊

(ဂ) ဖော်ပြပါနေရာအား လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအရ လက်ခံနိုင်ခြင်းရှိပါသည်၊

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့်နေရာဖြစ်ပါသည်၊

(င) ရှေးဟောင်းအထိမ်းအမှတ် အဆောက်အအုံတည်ရှိရာဇုန် (MZ)၊ ရှေးဟောင်းနေရာတည်ရှိရာဇုန် (AZ)၊ ကာကွယ်ထိန်းသိမ်းထားသောဇုန် (PZ)များအတွင်း ကျရောက်ခြင်းမရှိပါ၊

၃။ သို့ဖြစ်ပါ၍ Bagan Lotus Co.,Ltd မန်နေးဂျင်းဒါရိုက်တာဒေါက်တာခင်မောင်မြင့် (၁၃/လရန (နိုင်)၀၈၆၄၄၅ )မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုရန် တင်ပြလာမှုအပေါ် (၂၁.၉.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/၂၀၁၅) ဆုံး ဖြတ်ချက်အပိုဒ် (၁၁၇)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

( ရဲမြင့် )
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ၊
ရုံးလက်ခံ။



ဗိုလ်တယ်/ခရီးသွား
မဟာ-၇၀၅
၁၈/၉

နောက်ဆက်တွဲ-ခ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၈ - ၈ (အုပ်ချုပ်မှု)/နပတ/ ၃၀၃၉
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာ လ ၁၇ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၈-၂၀၁၅ ရက်စွဲပါစာအမှတ် ရက-၄/မ-၁၄၉၁/၂၀၁၅(၆၆၁)

၁။ Bagan Lotus Co.,Ltd မှဦးပိုင်အမှတ်(၃၁-၄)၊ကွင်းအမည်-ဘုတ္တောကွင်း၊ကွင်းအမှတ်(၁၅၃၆)၊ကျောက်ပန်းတောင်း-ညောင်ဦးလမ်းမကြီး၊ တိုးဂိတ်အနီး၊ တောင်ဘကျေးရွာအုပ်စု၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ (၃.၈၂) ဧကတွင် စုစုပေါင်းအခန်း (၁၁၀) ပါဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဒေါက်တာခင်မောင်မြင့်မှ အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပုဂံဒေသသည် ကမ္ဘာလှည့်ခရီးသည်များ အထူးစိတ်ဝင်စားစွာလည်ပတ်သောဒေသဖြစ်၍ တိုးတက်ရောက်ရှိလာမည့်ကမ္ဘာလှည့်ခရီးသည်များအတွက်နိုင်ငံတကာအဆင့်မီအခန်းများ ဖြည့်ဆည်းပေးရန်လိုအပ်သော်လည်း ရှေးဟောင်းယဉ်ကျေးမှုနယ်မြေဖြစ်သဖြင့် နယ်မြေဧရိယာပေါ် မူတည်၍ သက်ဆိုင်ရာ ဌာနများ၏ သဘောထားများ လိုအပ်မည်ဖြစ်ပါသည်။

၃။ ဤဝန်ကြီးဌာနအနေနှင့်ပုဂံဒေသတွင် ဟိုတယ်ဆောက်လုပ်ခွင့်တင်ပြလာမှုများအပေါ်တွင် ယဉ်ကျေးမှုဝန်ကြီးဌာနနှင့်မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့တို့သို့သဘောထားမှတ်ချက်တောင်းခံခြင်း၊ ဥက္ကဋ္ဌအမျိုးသားခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့ တင်ပြ၍ လမ်းညွှန်ချက်ခံယူခြင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့တင်ပြ၍ လမ်းညွှန်ချက်ခံယူခြင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီသို့တင်ပြ၍ လမ်းညွှန်ချက်ခံယူခြင်း၊ ဤဝန်ကြီးဌာန၏ အလုပ်အမှုဆောင်အစည်းအဝေး

တွင် ထည့်သွင်းတင်ပြဆွေးနွေး၍ အတည်ပြုဆုံးဖြတ်ချက်ရယူခြင်းတို့ကို အဆင့်အလိုက်ဆောင်ရွက်ပြီးခွင့်ပြုချက်များရရှိပြီးမှသာဟိုတယ်ဆောက်လုပ်ခွင့်ကိုဆက်လက်ဆောင်ရွက်ရမည်ဖြစ်ပါသည်။

၄။ ယခုအဆိုပြုလွှာကိုစိစစ်ကြည့်ရာတွင်မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှလုပ်ထုံးလုပ်နည်းနှင့်အညီဆောင်ရွက်ရန်အတွက်ကန့်ကွက်ရန်မရှိကြောင်းနှင့်ရှေးဟောင်းသုတေသန၊အမျိုးသားပြတိုက်နှင့်စာကြည့်တိုက်ဦးစီးဌာန၊ ပုဂံဌာနခွဲမှ ယဉ်ကျေးမှုဇုန်နယ်မြေများနှင့် ကင်းလွတ် သည်ကိုစိစစ်တွေ့ရှိရပါကြောင်းတို့ကိုပြန်ကြားထားသည်ကိုတွေ့ရှိရသော်လည်းယခုဟိုတယ်စီမံကိန်းသည်ပုဂံဒေသတွင်တည်ရှိပါသောကြောင့်ယဉ်ကျေးမှုဝန်ကြီးဌာန၏ သဘောထားရယူရန်လိုအပ်မည် ဖြစ်ပါသည်။

၅။ Bagan Lotus Co., Ltdမှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Suite Room (၁) ခန်းလျှင် အမေရိကန်ဒေါ်လာ (၄၀) (သို့မဟုတ်) မြန်မာငွေကျပ်အနေနှင့် (၄၀၀၀၀)၊ Delux Room (၁) ခန်းလျှင် အမေရိကန်ဒေါ်လာ (၃၀) (သို့မဟုတ်) မြန်မာငွေကျပ်အနေနှင့် (၃၀၀၀၀)၊ Standard Room (၁) ခန်းလျှင် အမေရိကန်ဒေါ်လာ(၂၅) (သို့မဟုတ်)မြန်မာငွေကျပ်အနေနှင့် (၂၅၀၀၀) စသည်ဖြင့်နှုန်းများသတ်မှတ်ဖော်ပြထားသဖြင့်ငှားရမ်းမည့်နှုန်းထားများနှင့်အသုံးပြုမည့်ပစ္စည်းများပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန်လိုအပ်ပါသည်။

၆။ Bagan Lotus Co., Ltd မှဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်းအတွက် ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့်ပတ်သက်၍အခွန် သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

၇။ ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် နှစ် (၃၀) ဂရန်မြေဖြစ်ကြောင်း တွေ့ရှိရပြီး ကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းသက်တမ်းမှာမူ ကနဦးနှစ်(၃၀)နှင့် (၁၀) နှစ် (၂) ကြိမ် ဖြစ်နေပါ၍ လုပ်ငန်းသက်တမ်းနှင့်ဂရန်မြေသက်တမ်းတို့ ကိုက်ညီရန်လိုအပ်မည်ဖြစ်ပါသည်။

၈။ ထို့အပြင် Bagan Lotus Co., Ltd မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊အခန်းများဖွဲ့စည်းရေးနှင့်လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေနှင့် လိုင်စင်ဆိုင်ရာအမိန့်များတွင် ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်စံနှုန်းများ (Basic Requiretments and Criteria) ထက်မနိမ့်ကျစေရေးအတွက်အဆိုပါဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရန်လည်း လိုအပ်ပါကြောင်း တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဒေါက်တာစိုင်းကျော်အုန်း၊ဒုတိယဝန်ကြီး)

မိတ္တူကို- ရုံးလက်ခံမှတ်ပုံ




နောက်ဆက်တွဲ-ဂ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၃(၂)/၁၆(ဃ)(၆)/( ၂၄၁၃ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁ - ၈ - ၂၀၁၅ ရက်စွဲပါစာ အမှတ် ၊ ရက - ၄ / မ - ၁၄၉၀ / ၂၀၁၅ ( ၆၅၆ )

၁။ Bagan Lotus Co., Ltd မှ ဦးပိုင်အမှတ် (၃၁ - ၄) ၊ ကွင်းအမည် - ဘုတ္တောကွင်း၊ ကွင်းအမှတ် (၁၅၃၆)၊ ကျောက်ပန်းတောင်း - ညောင်ဦးလမ်းမကြီး၊ တိုးဂိတ်အနီး၊ တောင်ဘကျေးရွာ အုပ်စု ၊ ညောင်ဦးမြို့နယ် ၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ( ၃.၈၂ ) ဧက တွင်စုစုပေါင်း အခန်း( ၁၁၀ )ပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ဟိုတယ်တည်ဆောက်ခြင်း လုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှားများ ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ လုပ်ငန်းသုံးစက် နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ လေထု ၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ် စေနိုင်ကြောင်း နှင့် ဟိုတယ်လုပ်ငန်း လည်ပတ်ချိန်၌ ထွက်ရှိလာမည့် စွန့်ပစ် ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျ စွန့်ပစ်ခြင်းမပြုဘဲ ပတ်ဝန်းကျင်ရှိ မြစ် / ချောင်း / အိုင်များ အတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါက မြေထုနှင့်ရေထုညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ရှိ စားသောက်ခန်း၊ ဘား ၊ မီးဖိုဆောင်မှ ထွက်ရှိလာမည့် အစားအသောက် အညစ်အကြေးများ နှင့် ဆွေးမြည့်ရန် အချိန်ကြာမြင့်သည့် ပလတ်စတစ် နှင့် ကျွတ်ကျွတ်အိတ်ကဲ့သို့ အမှိုက်များကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ဖော်ပြပါအချက်များကို ထည့်သွင်းဆောင်ရွက်ရန် လိုအပ်ပါသည်-

(က) ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းကို Eco-Friendly အဖြစ် ဖွံ့ဖြိုးတိုးတက်လာစေရေး အတွက် ရေတို ၊ ရေရှည် ဆောင်ရွက်ရန် နည်းလမ်းများ ပါဝင်သည့် စီမံကိန်းများ နှင့် အစီအမံများ ရေးဆွဲချမှတ်ဆောင်ရွက်ရန်၊

(ခ) မိလ္လာအညစ်အကြေး စွန့်ထုတ်မှုလုပ်ငန်း စနစ်များ ၊ အညစ်အကြေး သန့်စင်မှု လုပ်ငန်းစနစ်များ၊ ရေဆိုးပြန်လည်သန့်စင်မှု လုပ်ငန်းစနစ်များ၊ အစိုင်အခဲစွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု ၊ ရေရယူအသုံးပြုမှု နှင့် ရေစီမံခန့်ခွဲမှု စနစ်များ ၊ လေထုညစ်ညမ်းမှု၊ရေထုညစ်ညမ်းမှုနှင့်အသံဆူညံမှုကာကွယ်ရေး စီမံချက်များ၊ စွမ်းအင်ပြန်လည် အသုံးပြု ထိန်းသိမ်းရေးစနစ်များ ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

(ဂ) အဆိုပြုလုပ်ငန်းရှိ ခြံ ၊ မြေ ၊ အဆောက်အအုံ၊ မိလ္လာပိုက်၊ ရေဆိုးစွန့်ထုတ်သည့်ပိုက်များအတွင်းမှအများပြည်သူတို့၏ကျန်းမာရေးကို ထိခိုက်စေနိုင်သော အညစ်အကြေး သို့မဟုတ် အနံ့ဆိုးထွက်စေသောအရည်များ စီးထွက်စေခြင်း၊ စိမ့်ထွက်စေခြင်း သို့မဟုတ် စွန့်ပစ်ခြင်းမပြုရန်၊

(ဃ) လုပ်ငန်းများမှ ထွက်ရှိသော ရေဆိုးများကို ရေနုတ်မြောင်း ၊ မြစ် ၊ ချောင်း ၊ အင်း၊ အိုင် (သို့) ကန်အတွင်းသို့ စည်ပင်သာယာရေးကော်မတီ နည်းဥပဒေမှ သတ်မှတ်ထားသော စံချိန်စံညွှန်းအထိ သန့်စင်ပြီးမှစွန့်ထုတ်ရန်၊

(င) ဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများအား လျှော့နည်းသည်ထက် လျှော့နည်းအောင် လျှော့ချသောနည်းလမ်း (Reduce) ၊ စွန့်ပစ်လိုက်သည့်အမှိုက်များမှ စွန့်ပစ်ပစ္စည်းအချို့အား ပြန်လည်အသုံးပြုသောနည်းလမ်း(Reuse) နှင့်ပြန်လည်ပြုပြင် အသုံးပြု၍ရသည့် ပစ္စည်းများအား မူလပုံစံအတိုင်း သို့မဟုတ် နောက်ထပ်ပစ္စည်းပုံစံ အသစ်တစ်မျိုးအဖြစ်ပြန်လည်ပြုပြင်သုံးစွဲသော နည်းလမ်း (Recycle) များ အသုံးပြု၍ နေ့စဉ်ထွက်ရှိနေသည့် အမှိုက် ပမာဏ လျှော့နည်းလာစေရေးအတွက် စီမံချက်ရေးဆွဲ ဆောင်ရွက်ရန်၊

(စ) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်း နှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

၄။ သို့ဖြစ်ပါ၍ Bagan Lotus Co., Ltd မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အထက်အပိုဒ်(၃)ပါ လိုအပ်ချက်များအား ဖြည့်စွက်ဆောင်ရွက်ပြီး အောက်ဖော်ပြပါ အချက်များကိုလည်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှုများ လျှော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည် မဖော်မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination- IEE) လုပ်ငန်းကို ဆောင်ရွက်ရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း ၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များ ၊ စည်ပင်သာယာရေး ဥပဒေ ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ-ယ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ယဉ်ကျေးမှုဝန်ကြီးဌာန
**ဝန်ကြီးရုံး**

စာအမှတ်၊ ၂ /၃ - ၁ / ၂၀၁၅ ( ၅၈၅၃ )
ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ ၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၁.၈.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄ /မ - ၁၄၉၀ / ၂၀၁၅ (၆၅၇)
(၂) ရှေးဟောင်းသုတေသနနှင့်အမျိုးသားပြတိုက်ဦးစီးဌာန၏ (၈.၉.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၂၆၃၇ /၃ /၄ . င
(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉.၉.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄ /မ - ၁၄၉၀ / ၂၀၁၅ (၇၇၆)

၁။ Bagan Lotus Co ., Ltd က ဦးပိုင်အမှတ် (၃၁ - ၄ )ကွင်းအမည် - ဘုတ္တောကွင်း၊ ကွင်းအမှတ်၊ (၁၅၃၆) ၊ ကျောက်ပန်းတောင်း - ညောင်ဦးလမ်းမကြီး၊ တိုးဂိတ်အနီး၊ တောင်ဘကျေးရွာအုပ်စု၊ ညောင်ဦးမြို့နယ် ၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ(၃.၈၂)ဧကတွင် စုစုပေါင်းအခန်း(၁၁၀)ပါ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်နှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါက်တာခင်မောင်မြင့်မှ အဆိုပြုတင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ ရည်ညွှန်း(၁)ပါ စာဖြင့် ညှိနှိုင်းလာခြင်းနှင့်စပ်လျဉ်း၍ ယဉ်ကျေးမှုဝန်ကြီးဌာန၊ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်က ရည်ညွှန်း(၂)ပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာနသည် Regulations များအတွက် တိကျသောတာဝန်ခံဖြစ်ပါ၍ ၎င်းစာပြန်ကြားချက်မှ ကွဲလွဲခြင်းမရှိပါကြောင်းနှင့် သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ရဲမြင့် - ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ရှေးဟောင်းသုတေသနနှင့်အမျိုးသားပြတိုက်ဦးစီးဌာန
ရုံးလက်ခံ / မျှော



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ယဉ်ကျေးမှုဝန်ကြီးဌာန
# ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန
# ရုံးအမှတ်-၃၅၊ နေပြည်တော်

စာအမှတ်၊ ၂၆၃၇/၃/၄-၀

ရက်စွဲ ၊၂၀၁၅ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M3 - ၈၅၀
ပြ/၉.

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၃၁. ၈. ၂၀၁၅ )ရက်စွဲပါ စာအမှတ်၊ ရက-၄/ မ- ၁၄၉၀ / ၂၀၁၅( ၆၅၇ )

၂-၅၄၃
၅.၉.၁၅

Bagan Lotus Co., Ltd. က ဦးပိုင်အမှတ်( ၃၁-၄ )၊ ကွင်းအမည် ဘုတ္တော့ကွင်း၊ ကွင်းအမှတ်(**၁၅၃၆**)၊ ကျောက်ပန်းတောင်း-ညောင်ဦးလမ်းမကြီး၊ တိုးဂိတ်အနီး၊ တောင်ဘကျေးရွာအုပ်စု၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ( ၃.၈၂ )ဧကတွင် စုစုပေါင်း အခန်း(၁၀၀)ပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါက်တာခင်မောင်မြင့်မှ အဆိုပြုတင်ပြလာခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာသည့် ကိစ္စနှင့်ပတ်သက်၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ယဉ်ကျေးမှုအမွေအနှစ်ဒေသများကာကွယ်ထိန်းသိမ်းရေး ဥပဒေအရ သတ်မှတ်သည့်ဇုန်နေရာပြင်ပတွင် ကျရောက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရသဖြင့် ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာနအနေဖြင့် သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၀၈ Sep

( ကျော်ဦးလွင် )

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို-

- ဝန်ကြီးရုံး၊ ယဉ်ကျေးမှုဝန်ကြီးဌာန
- ရုံးလက်ခံ / မျှော




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၀၀ /၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၂ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် ဦးပိုင်အမှတ်(၄၃/C)၊ ကွင်းအမှတ် - ၁၅၁၃၊ ဘုန်းကြီးကန်ကွင်း၊ မြေနဲလေးကျေးရွာအုပ်စု၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၄.၂၄ ဧကတွင် အခန်း (၉၆)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂ (ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)အား ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊မနသ-၁၀၉၈/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ဝန်ဆောင်မှုလုပ်ငန်း တစ်ခုခု စီးပွားဖြစ်စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်

နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏စစ်ဆေးမှုဖြင့်ဆောင်ရွက်ရမည်။

၄။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်ပြီး သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေး နှင့် လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်နှင့် စံနှုန်းများ(Basic Requirement and Criteria) ထက်မနိမ့်ကျစေရေးအတွက် အဆိုပါဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၈။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်ဒေသသည် ကမ္ဘာ့လှည့်ခရီးသည်များ အထူးစိတ်ဝင်စားစွာ လည်ပတ်သောဒေသဖြစ်၍ တိုးတက်ရောက်ရှိလာမည့် ခရီးသည်များအတွက် နိုင်ငံတကာအဆင့်မီ အခန်းများဖြည့်ဆည်းပေးရန် လိုအပ်သော်လည်း ရှေးဟောင်းယဉ်ကျေးမှုနယ်မြေဖြစ်သဖြင့် နယ်မြေဇုန်ဧရိယာပေါ်မူတည်၍ သက်ဆိုင်ရာဌာနများ၏ သဘောထားများရယူ ဆောင်ရွက်သွားရမည်။

၉။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် ဟိုတယ်အဆောက်အအုံပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၀။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း သက်ဆိုင်ရာဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၁။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် ပြည်ပမှတင်သွင်းမည့် လူစီးမော်တော်ယာဉ်များအား အခွန်အကောက်ပေးဆောင်၍ တင်သွင်းရမည်။

၁၂။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်

ရမည်။ထို့အပြင် အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင်တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၃။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာနနည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။ ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများအား လုပ်ငန်းခွင်ရှိ ဝန်ထမ်းအားလုံး အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးရမည်။

၁၄။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE ) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအမံ (Environmental Management Plan - EMP) တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့်ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ပေးပို့အစီရင်ခံရမည်။

၁၅။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီလီမိတက်)သည် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာလိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီလီမိတ**က်**)သည် **က**နဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (၃)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (၁)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ/အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၈။ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ သက်ဆိုင်ရာဝန်ကြီးဌာနနှင့်အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသောခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကိုတစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၁/၁၁

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၄၉၁/၂၀၁၅ ( ၈၄၃-၈၁ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ယဉ်ကျေးမှုဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ မန္တလေးမြို့

ညွှန်ကြားရေးမှူးချုပ်၊မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

၄

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)







# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၀၉၈/၂၀၁၅။ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါက်တာစိုးသူအောင်

(ခ) **အဘ အမည်** ဦးအောင်ကြည်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** ၉/ကပတ(နိုင်) ၀၆၅၄၉၈

(ဃ) **နေရပ်လိပ်စာ** အမှတ် (၈၇/စီ)၊ ပြည်လမ်း၊ ပြည်လမ်းအနောက်ရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Royal Bagan Emerald Company Limited (တော်ဝင်ပုဂံမြရတနာ ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဦးပိုင်အမှတ်(၄၃/င)၊ကွင်းအမှတ်-၁၅၁၃၊ ဘုန်းကြီးကန်ကွင်း၊ မြေနဲလေးကျေးရွာအုပ်စု၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး ရှိ မြေ ၄.၂၄ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၀၁၂.၀၀ သန်း (အမေရိကန် ဒေါ်လာ ၀.၄၁၇ သန်းခန့် အပါ အဝင် စုစုပေါင်း ကျပ် နှစ်ထောင့် တစ်ဆယ့် နှစ်သန်း တိတိ)

၁၁/၁၁

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၈၁ /၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Bagan Lotus Company Limited (ပုဂံကြာပန်း ကုမ္ပဏီ လီမိတက်)သည် ဦးပိုင်အမှတ်(၁၁/၄)၊ကွင်းအမှတ် - ၁၅၃၆၊ဘုတ္တောကွင်း၊တောင်ဘကျေးရွာအုပ်စု၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၃.၈၂ ဧကတွင် အခန်း (၁၁၀)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Bagan Lotus Company Limited (ပုဂံကြာပန်း ကုမ္ပဏီလီမိတက်)အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၀၉၉ /၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်းတစ်ခုခု စီးပွားဖြစ်စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေ ခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်

ကန့်သတ်

တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန်လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများအတိုင်းတွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့်စပ်လျဥ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှုစသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်ပြီး သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်နှင့် စံနှုန်းများ (Basic Requirement and Criteria )ထက် မနိမ့်ကျစေရေးအတွက် အဆိုပါဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၈။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်ဒေသသည် ကမ္ဘာ့လှည့်ခရီးသည်များ အထူးစိတ်ဝင်စားစွာ လည်ပတ်သောဒေသဖြစ်၍ တိုးတက်ရောက်ရှိလာမည့် ခရီးသည်များအတွက် နိုင်ငံတကာအဆင့်မီ အခန်းများဖြည့်ဆည်းပေးရန် လိုအပ်သော်လည်း ရှေးဟောင်းယဉ်ကျေးမှုနယ်မြေဖြစ်သဖြင့် နယ်မြေဧရိယာပေါ်မူတည်၍ သက်ဆိုင်ရာဌာနများ၏ သဘောထားများရယူ ဆောင်ရွက်သွားရမည်။

၉။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် ဟိုတယ်အဆောက်အအုံပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်းလိုင်စင် ရရှိရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၀။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက်လည်းကောင်း သက်ဆိုင်ရာဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၁။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် ပြည်ပမှတင်သွင်းမည့် လူစီးမော်တော်ယာဉ်များအား အခွန်အကောက်ပေးဆောင်၍ တင်သွင်းရမည်။

၁၂။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး

နှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၃။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည်ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။ ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများအား လုပ်ငန်းခွင်ရှိ ဝန်ထမ်းအားလုံး အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးရမည်။

၁၄။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအမံ (Environmental Management Plan - EMP) တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ပေးပို့အစီရင်ခံရမည်။

၁၅။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (၃)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး(၁)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Bagan Lotus Company Limited (ပုဂံကြာပန်းကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ သက်ဆိုင်ရာဝန်ကြီးဌာနနှင့် အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထား သောခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာ ကစစ်ဆေးတွေ့ရှိလျှင် လိုအပ်သလိုအရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့ အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

၁၁/၁၁

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကဧ-၄ /မ-၁၄၉၀/၂၀၁၅ ( ၈၉၃-၆ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ယဉ်ကျေးမှုဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ မန္တလေးမြို့
ညွှန်ကြားရေးမှူးချုပ်၊မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

၃

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ Bagan Lotus Company Limited (ပုဂံကြာပန်း ကုမ္ပဏီ လီမိတက်)




# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ - ၁၀၉၉ / ၂၀၁၅။ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါက်တာခင်မောင်မြင့်

(ခ) **အဘ အမည်** ဦးအောင်မြင့်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** ၁၃/လရန(နိုင်) ဝ၈၆၄၄၅

(ဃ) **နေရပ်လိပ်စာ** အမှတ် (၅၉/က)၊ ရှင်စောပုလမ်း၊ အောင်ချမ်းသာရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Bagan Lotus Company Limited (ပုဂံ ကြာပန်း ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဦးပိုင်အမှတ်(၃၁/၄)၊ကွင်းအမှတ်-၁၅၃၆၊ ဘုတ္တောကွင်း၊ တောင်ဘကျေးရွာ အုပ်စု၊ ညောင်ဦးမြို့နယ်၊ မန္တလေးတိုင်း ဒေသကြီး ရှိ မြေ ၃.၈၂ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၁၀၀.၀၀ သန်း( အမေရိကန် ဒေါ်လာ ၁.၄၂၅ သန်းခန့် အပါ အဝင် စုစုပေါင်း ကျပ် သန်း နှစ်ထောင့် တစ်ရာ တိတိ)

၁၁/၁၁

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်